




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၄ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဇွန် လ ၂၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဟန်ရုံရှန်း

(ခ) **အဘ အမည်** ဦးယို့ဆိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၁၃/မဆတ(နိုင်)၀၃၇၉၇၇

(ဃ) **နေရပ်လိပ်စာ** အမှတ်(၁၅၈)၊ သစ္စာလမ်း၊ (၁၂)ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ဆောက်လုပ်ရေး လုပ်ငန်းသုံး သံမဏိချောင်းများနှင့် Angle Iron များ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသ(များ)** ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိ စက်မှုဇုန်၊ မြေကွက် အမှတ် (၅၀၊ ၅၁၊ ၆၀) ရှိ မြေ ဧရိယာ (၆.၉၉၂) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၄၃၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၃.၈၀ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း လေးထောင့် သုံးရာ တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်





**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၃၉ /၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် ဇွန် လ ၂၅ ရက်

၁။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ ကုမ္ပဏီ အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိ စက်မှုဇုန်၊ မြေကွက် အမှတ် (၅၀၊ ၅၁၊ ၆၀) ရှိ မြေဧရိယာ (၆.၉၉၂) ဧကတွင် သံမဏိစက်ရုံ တည်ဆောက်၍ ဆောက်လုပ်ရေး လုပ်ငန်းသုံး သံမဏိချောင်းများနှင့် Angle Ironများ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား ~~(၂၀-၃-၂၀၁၄) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃/၂၀၁၄)~~ အစည်းအဝေး၌ တင်ပြခဲ့ရာ "ကုမ္ပဏီမှ ဂရုပြုဆောင်ရွက်ရမည့် ကိစ္စရပ်များကို စက်မှုဝန်ကြီးဌာနက အကြံပြုချက်ရေးသားပြီး သက်ဆိုင်ရာ ကုမ္ပဏီသို့ အကြောင်းကြားပေးရန်နှင့် ထုတ်လုပ်မည့် သံမဏိ ချောင်းများနှင့် Angle Iron အရည်အသွေး စံချိန်စံညွှန်း မီ-မမီ စစ်ဆေးရန်အတွက် စက်မှုဝန်ကြီးဌာနနှင့် ကုမ္ပဏီတို့ ညှိနှိုင်းပြီး ဆောင်ရွက်မည့် လုပ်ငန်းစဉ်ကို ကော်မရှင်သို့ ပြန်လည် တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်နှင့်အညီ ထုတ်လုပ်မည့် သံမဏိ ချောင်းများနှင့် Angle Iron အရည်အသွေး စံချိန်စံညွှန်း နှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာနမှ ထောက်ခံတင်ပြလာသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅/၂၀၁၄ (၃၁-၅-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ရာ "လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanmar Typical Production Co., Ltd. (မြန်မာစံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်) အား ဆောက်လုပ်ရေး လုပ်ငန်းသုံး သံမဏိချောင်းများနှင့် Angle Iron များ ထုတ်လုပ်ခြင်း လုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၄ /၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၃။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြ

ပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီး မြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေ ကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက် သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန် တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ် အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက် ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည် ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့ တွက် နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ် ငွေထဲမှ နုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့ နှုန်းထားများကို ဤ ကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှုပြီးစီး၍ ပထမ သုံးနှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများ အပေါ်တွင်

အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၅။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် Environment Impact Assessment (EIA) နှင့် Environmental Management Plan (EMP) တို့ကို ပြုလုပ်

ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၉။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေးများနှင့် စပ်လျဉ်း၍ စက်မှု ဝန်ကြီးဌာန၏ ညွှန်ကြားချက်များနှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၀။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉ (ဂ)ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ~~ပြည်တွင်း အလုပ် သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး~~ ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

၁၂။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေ

များ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၄။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ Myanmar Typical Production Co., Ltd. (မြန်မာ စံနမူနာပြု ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် ၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကဓ-၆(က)/မ-၁၃၉၈ / ၂၀၁၄ (၆၅၄၅ -ည)

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဇွန် လ ၂၅ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေး ဝန်ကြီးဌာန